




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ - ၁၆၅/၉၀ ၁၉၉၀ ခုနှစ်၊ ဩဂုတ် လ ၁၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဒေါ်ခင်ခင်စိုး

(ခ) အဘအမည် ဦးစိုးမြင့်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လမတ(နိုင်)၀၂၀၉၂၀

(ဃ) နေရပ်လိပ်စာ အမှတ်၅၇(ပထမထပ်)၊ ၁၁-လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ခိုင်သဇင်စိုး အထည်ချုပ် ကုမ္ပဏီလီမိတက် (Khine Thazin Soe Garment Co., Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား အသင့်ချုပ်ပြီး အထည်များ ထုတ်လုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ်(၃၃)၊ ပဒင်း၀န်ဦးရွှေဘင်လမ်း၊ လှိုင်သာယာစက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၂,၇၃သန်း(ကျပ်နှစ်ဆယ့်နှစ်သန်း ခုနှစ်သိန်း သုံးသောင်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ် ၅၉ /၉၈ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၀ ပြည့်နှစ်၊ ဝါခေါင် လပြည့်ကျော် ၁၂ ရက်။
(၁၉၉၈ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော ခိုင်သဇင်စိုး အထည်ချုပ် ကုမ္ပဏီ လီမိတက် (Khine Thazin Soe Garment Co., Ltd.) တည်ထောင်၍ ဦးထွန်းဝေနှင့် ဒေါ်ခင်ခင်စိုး အမည်ဖြင့် မြေအသုံးပြုခွင့် ရရှိထားသော မြို့ရွာ နှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၁)၊ ပဒင်းဝန် ဦးရွှေဘင်လမ်း၊ မြေကွက်အမှတ် (၃၃) ရှိမြေ (၀.၇၅)ဧက (၃၀၃၅.၁၅ စတုရန်းမီတာ) ပေါ်တွင် စက်ရုံ တည်ဆောက်ပြီး CMP စနစ်ဖြင့် အသင့်ချုပ်ပြီး အထည်များ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၆-၆-၉၈) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁/၉၈) ကြိမ်မြောက် အစည်းအဝေး သို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့်အညီ (၁၃-၈-၉၈) နေ့တွင် ကျင်းပ ပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂၇/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ခိုင်သဇင်စိုး အထည်ချုပ် ကုမ္ပဏီ လီမိတက် (Khine Thazin Soe Garment Co., Ltd.)အား CMP စနစ်ဖြင့် အသင့်ချုပ်ပြီး အထည်များ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၆၅/၉၈ ကို ထုတ်ပေးလိုက်သည်။

၂။ ခိုင်သဇင်စိုး အထည်ချုပ် ကုမ္ပဏီ လီမိတက် (Khine Thazin Soe Garment Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက် သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏

အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေ ပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်မှာ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ ၂၁-၅-၉၆ နေ့စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၇၇/၉၆ အရ အကျုံးဝင်ပြီးဖြစ်သည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ - ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-

back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ခိုင်သဇင်စိုး အထည်ချုပ် ကုမ္ပဏီ လီမိတက် (Khine Thazin Soe Garment Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့် စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေ ဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ငွေချေးသူ၏ တာဝန်သာ ဖြစ်စေရမည်။

၆။ ခိုင်သဇင်စိုး အထည်ချုပ် ကုမ္ပဏီ လီမိတက် (Khine Thazin Soe Garment Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင် အထည် ဖော်ရမည်။

၇။ ခိုင်သဇင်စိုး အထည်ချုပ် ကုမ္ပဏီ လီမိတက် (Khine Thazin Soe Garment Co., Ltd.) ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ မှတ်ပုံတင်နိုင်ရန် အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့် အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၉။ ခိုင်သဇင်စိုး အထည်ချုပ် ကုမ္ပဏီ လီမိတက် (Khine Thazin Soe Garment Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြလျှောက်ထားရမည်။

၁၀။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ ခိုင်သဇင်စိုး အထည်ချုပ် ကုမ္ပဏီ လီမိတက် (Khine Thazin Soe Garment Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး မပျက်မကွက် အစီရင်ခံရမည်။

၁၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၂၄၅/၉၈ (၁၆၉၆)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်။

ဖြန့်ဝေခြင်း–
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။

၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၆။ မန်နေးဂျင်း ဒါရိုက်တာ၊ ခိုင်သဇင်စိုး အထည်ချုပ် ကုမ္ပဏီ လီမိတက် (Khine Thazin Soe Garment Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး